(ခ) လုပ်ငန်းဆောင်ရွက်မည့်စက်ရုံမြေနေရာမှာ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် စင်္ကာပူနိုင်ငံ Kepventure Pte Co., Ltd.တို့၏ ဖက်စပ်ကုမ္ပဏီ Mingaladon IndustrialPark Co., Ltd. မှ ဖော်ထုတ်ထားသည့်မင်္ဂလာဒုံ စက်မှုဇုန်မြေကွက် အမှတ် (ဘီ-၆)နှင့် (ဘီ-၇) တွင်(၃၆)နှစ် ငှားရမ်းစာချုပ်၍ လုပ်ကိုင်မည်ဖြစ်ပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု၊ ညစ်ညမ်းမှုမရှိစေရန် လိုအပ်သောအစီအမံများပြုလုပ်ဆောင်ရွက်မည်ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကို မထိခိုက်နိုင်ပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၃. ၈. ၂၀၁၂)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၃၂/ ၂၀၁၂)ဆုံးဖြတ်ချက်အပိုဒ်(၇၄)အရ URC(Myanmar) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူ၊**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
URC(Thailand) Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

၈-၇၉၅
၂၃/၈/၁၂

စာအမှတ် ၂/၂၂၀(ခ)(၄)/( ၄၂၂၅ /၂၀၁၂)
ရက်စွဲ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>URC (Myanmar) Co., Ltd မှ စားသောက်ကုန်ပစ္စည်း ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၇-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ဖ (ခ) / န - ၆၂၈ / ၂၀၁၂ (၉၀၅၅)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထိုင်းနိုင်ငံမှ URC (Thailand) Co., Ltd သို့ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် URC (Myanmar) Co., Ltd ကိုတည်ထောင်ပြီး ရန်ကုန်တိုင်း ဒေသကြီး၊ မင်္ဂလာဒုံစက်မှုဇုန်ရှိ မြေကွက်အမှတ် B-6 နှင့် B-7 (ဧရိယာ ၁၄.၅၂ ဧက) အား ငှားရမ်း၍ စားသောက်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ရာတွင် လုပ်ငန်းအဆိုပြုလွှာတွင် snacks, biscuit နှင့် wafer များ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်းများကို စီမံကိန်းကာလမှာ ၃၆ နှစ်ကြာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ထုတ်ကုန်ပစ္စည်းများအားလုံးကို ပြည်တွင်း၌သာ ရောင်းချမည်ဖြစ်ကြောင်းနှင့် အဆိုပြုလုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးနှင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနတို့မှ ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ Additional Conditions for Lease of Mingaladon Industrial Park(ACL-MIP) တွင်ပါရှိသည့် Environmental Impact Control, Environmental Monitoring Plan နှင့် Environmental Management တို့အကောင်အထည်ဖော်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြထားသော်လည်း ၎င်းပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာစီမံချက်များကို လုပ်ငန်းအဆိုပြုလွှာတွင် ထည့်သွင်းဖော်ပြထားခြင်းမရှိပါကြောင်းစိစစ်တွေ့ရှိရပါသည်။

၂။ လုပ်ငန်းခွင်ဘေးအန္တရာယ်လုံခြုံရေးနှင့် လုပ်သားများ၏ကျန်းမာရေး ကြိုတင်ကာကွယ်စောင့်ရှောက်မှု အစီအစဉ်များကို အသေးစိတ်ဖော်ပြထားခြင်း မရှိကြောင်းနှင့် စားသောက်ကုန်ပစ္စည်းများထုတ်လုပ်ရန် လိုအပ်သည့်ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ထုပ်ပိုးခြင်းလုပ်ငန်းအဆင့်ဆင့်တွင် . စွန့်ပစ်ပစ္စည်းနှင့်အရည်များ၊ အနံ့

အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊ အနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ စားသောက်ကုန်ပစ္စည်းများ ထုပ်ပိုးရာတွင် အသုံးပြုမည့် ထုပ်ပိုးစက္ကူများမှာ ပလတ်စတစ်ကိုအခြေခံသည့် ပစ္စည်းများ ဖြစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေခြင်း၊ ထုတ်လုပ်မှုဖြစ်စဉ်တွင် အသုံးပြုမည့် ဆိုးဆေး၊ ချွတ်ဆေးများကြောင့် စားသုံးသူပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း စီစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထိုင်းနိုင်ငံမှ URC (Thailand) Co., Ltd သို့ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် URC (Myanmar) Co., Ltd ကိုတည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံစက်မှုဇုန်ရှိ မြေကွက်အမှတ် B-6 နှင့် B-7 (ဧရိယာ ၁၄.၅၂ ဧက) အား ငှားရမ်း၍ စားသောက်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများနှင့် လုပ်ငန်းခွင်မတော်တဆထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် ပစ္စည်းများသိုလှောင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ထုပ်ပိုးခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု အနည်းဆုံးဖြစ်စေရန် ဆောင်ရွက်မည့်အစီအစဉ်များရေးဆွဲပြီး လက်တွေ့လိုက်နာဆောင်ရွက်စေရန်နှင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများကို အသုံးပြုစေခြင်း၊ သဘာဝ ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ / မရှိကို ပြည်တွင်း / ပြည်ပ တတ်ကျွမ်းသူများပါဝင်သည့် တတိယအဖွဲ့အစည်းအား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmen- tal Impact Assessment - EIA) ပြုလုပ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan- EMP) ကို အသေးစိပ်ရေးဆွဲတင်ပြစေပြီး စီမံချက်ပါ အတိုင်းလိုက်နာဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် တည်ဆဲ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေများကို လိုက်နာရန်ကျင့်သုံးရန်လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်
စီမံကိန်းနှင့်စာရင်းအင်းဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

M-619
10/8/12

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

**ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း**

စာအမှတ်၊ ၁၅၁၁/စမ-၁/၂၀၁၂ ( ၅၃၀ )

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ၈ ရက်

အကြောင်းအရာ။ **URC (Myanmar)Co., Ltd မှ စားသောက်ကုန်ပစ္စည်း ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆-၇-၂၀၁၂) ရက်စွဲပါစာအမှတ် ၇က-၁/န-၆၈၂/၂၀၁၂(၉၀၅၃)

၁။ ထိုင်းနိုင်ငံမှ URC (Thailand) Co., Ltd သည် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် URC (Myanmar) Co., Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံစက်မှုဇုန်ရှိ မြေကွက်အမှတ် B-6 နှင့် B-7 (ဧရိယာ ၁၄.၅၂ ဧက)အား ငှားရမ်း၍ Biscuit, Wafer နှင့် Snack တို့ ထုတ်လုပ်ပြီး ပြည်တွင်း၌ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ စားသောက်ကုန်ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရန် ပြည်ပတင်သွင်းကုန်အဖြစ် တင်ပြလာသော စက်ပစ္စည်းများစာရင်းတွင် Local Engineering Works မထည့်သွင်းသင့်ပါကြောင်း တင်ပြအပ်ပါသည်။ ထုတ်လုပ်မည့် ကုန်ချောများ၏ Size သို့မဟုတ် Weight ဖော်ပြပါရှိခြင်း မရှိသည့်အတွက် ကုန်ကြမ်းကုန်ချော ကိုက်ညီမှုရှိ၊ မရှိ စိစစ်နိုင်ခြင်းမရှိပါ။ ဝန်ထမ်းစီးယာဉ်များ ပြည်ပမှ တင်သွင်းရန်ကိစ္စအား စိစစ်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

၃။ စားသောက်ကုန်များ ထုတ်လုပ်ရာတွင် အသုံးပြုသော ကုန်ကြမ်းများအားလုံးအား ပြည်ပမှ တင်သွင်းရန်ဖော်ပြထားပါသည်။ ပြည်တွင်းရှိ စိုက်ပျိုးရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ပြည်တွင်း၌ ထုတ်လုပ်နိုင်သော ကုန်ကြမ်းပစ္စည်းအချို့ကို ပြည်တွင်းမှ ဝယ်ယူသင့်ပါကြောင်း၊ စားသောက်ကုန် ထုတ်လုပ်ခြင်းဖြစ်သဖြင့် အသုံးပြုသည့် စက်ပစ္စည်းကိရိယာများ Food Grade များကိုသာ အသုံးပြုသင့်ပါကြောင်း၊ GMP နှင့်အညီထုတ်လုပ်ပြီး၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ၊ အမျိုးသားအစားအသောက်ဥပဒေများကို လိုက်နာမည်ဆိုပါက ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

ဒေါက်တာချိုဝင်းမော်
ဦးဆောင်ညွှန်ကြားရေးမှူး

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

M-346
25/7

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ရုံးအမှတ်(၄၁)နေပြည်တော်

စာအမှတ်၊ ၁၅၁၅(၅) မပတ-၁/၃/ ၂၀၁၂ (၁၄၈၁)

ရက် စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဇူလိုင် လ ၂၄ ရက်

အကြောင်းအရာ။ **URC (Myanmar) Co.,Ltd မှ စားသောက်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်နှင့်ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၇.၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၁/န-၆၈၂/၂၀၁၂ (၉၀၅၄)

၁။ ထိုင်းနိုင်ငံ URC(Thailand)Co.,Ltd.သည် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် URC (Myanmar) Co.,Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံစက်မှုဇုန်ရှိ မြေကွက်အမှတ် B-6နှင့်B-7(ဧရိယာ ၁၄.၅၂ ဧက )အား ငှားရမ်း၍ စားသောက်ကုန်ပစ္စည်းထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းအပေါ် ကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

**စစ်ဆေးတွေ့ရှိချက်**

၂။ URC (Myanmar)Co.,Ltd. စားသောက်ကုန်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

| | | | |
|---|---|---|---|
| (က) | လုပ်ငန်းရည်ရွယ်ချက် | - | နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်၊ပြည်တွင်းအလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန်နှင့် မြန်မာနိုင်ငံသားများစီးပွားရေးဖွံ့ဖြိုးတိုးတက်စေရန်အတွက်တင်ပြထားပါသည်၊ |
| (ခ) | လုပ်ငန်း/စက်ရုံအမည် | - | URC (Myanmar)Co.,Ltd. |
| (ဂ) | တည်နေရာနှင့်အကျယ်အဝန်း | - | ရန်ကုန်တိုင်းဒေသကြီး၊မင်္ဂလာဒုံစက်မှုဇုန်ရှိ မြေကွက် အမှတ် B-6 နှင့် B-7 ( ၁၄.၅၂ ဧက) |
| (ဃ) | အဆောက်အဦနှင့်မြို့ပြလုပ်ငန်း | - | |
| (င) | ပိုင်ရှင်အမည်/ရာထူး | - | Mr Patrick O.Ng (Director) |
| (စ) | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ ရက်စွဲ | - | ဖော်ပြထားခြင်းမရှိပါ။ |

| | | | |
|---|---|---|---|
| (ဆ) | လိုင်စင်နှင့်ထောက်ခံချက်များ | - | ဖော်ပြထားမှုမရှိပါ။ |
| (ဇ) | ထုတ်ကုန်အမျိုးအစားနှင့် အရည်အသွေး | - | Biscuits, Snacks, Wafers |
| (ဈ) | ရင်းနှီးမြှုပ်နှံမှု | - | US$ 31000000 |
| | နိုင်ငံသားရင်းနှီးမြှုပ်နှံမှု/ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု | - | နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြစ်ပါသည်၊ |
| (ည) | ဖြန့်ဖြူးမည့်ဒေသနှင့်ဈေးကွက် | - | ပြည်တွင်း |
| (ဋ) | အလုပ်သမားဦးရေ | - | ပြည်တွင်း(၈၅)ဦး + ပြည်ပ (၁၁)ဦး စုစုပေါင်း (၉၆)ဦး |

**သုံးသပ်တင်ပြချက်**

၃။ သို့ဖြစ်ပါ၍ URC (Myanmar) Co.,Ltd မှ စားသောက်ကုန်ပစ္စည်းထုတ်လုပ်ရောင်းချခြင်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုနှင့်ပတ်သက်၍-

(က) စားသောက်ကုန်ပစ္စည်းထုတ်လုပ်ရောင်းချမည့်လုပ်ငန်းဖြစ်ပါသည်၊

(ခ) ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မျှတမှုရှိပါသည်၊

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အား/လူအင်အား အချိုးအစား ညီညွတ်မျှတမှုရှိပါသည်၊

(ဃ) ကျန်းမာရေးနှင့်ညီညွတ်မျှတမှုရှိစေရန် လုပ်ငန်းခွင် သန့်ရှင်းရေးအစီအစဉ်များ စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်၊

(င) စားသောက်ကုန်လုပ်ငန်းဖြစ်သည့်အတွက် FDA နှင့် CRDC ထောက်ခံချက်များရရှိရန် လိုအပ်ပါသည်၊

(စ) တည်ဆဲဥပဒေများနှင့်ကိုက်ညီပါက ကန့်ကွက်ရန်မရှိကြောင်း သုံးသပ်အပ်ပါသည်။

၄။ သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

(လက်မှတ်)

စိုးလှိုင်

ညွှန်ကြားရေးမှူးချုပ်

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး</u>

မိတ္တူကို

စက်မှုဝန်ကြီးဌာန — သိသာနိုင်ပါရန်တင်ပြအပ်ပါသည်။

ရုံးလက်ခံ၊မျှောစာတွဲ

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ ၆ ရက်

အကြောင်းအရာ။ **URC (Myanmar) Co., Ltd. မှ စားသောက်ကုန်ပစ္စည်းထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ (၃၂/၂၀၁၂) ကြိမ်မြောက် ကော်မရှင်အစည်းအဝေး ဆုံးဖြတ်ချက်အရ သက်ဆိုင်ရာသို့ ပြန်ကြားမည့် စာစဉ်အား ပြုစုတင်ပြအပ်ပါသည်။

(ဖြိုးဖြိုးဆွေ)

လက်ထောက်ညွှန်ကြား. ရေးမှူး

၂။

၃။

Ns-Urc

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

ဖက်စ်-၀၆၇-၄၀၆၃၃၃ | တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅

စာအမှတ်၊ ရက- ၁/န-၆၈၂/၂၀၁၂ (၁၁၂၇၀)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်

အကြောင်းအရာ။ **URC (Myanmar) Co., Ltd. မှ စားသောက်ကုန်ပစ္စည်းထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ URC (Myanmar) Co., Ltd. ၏ (၁၆-၇-၂၀၁၂) ရက်စွဲပါစာ

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ URC (Myanmar) Co., Ltd. မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုတင်ပြလာခြင်းကိစ္စအား (၂၄-၁၀-၂၀၁၂) နေ့တွင် ကျင်းပပြုလုပ်သောကော်မရှင်၏ (၃၂/၂၀၁၂) ကြိမ် မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ URC (Myanmar) Co., Ltd. မှ ဘီစကွတ်၊ ဝေဖာစသည့် မုန့်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စအား ဖက်စပ်လုပ်ငန်း (Joint Venture) အသွင်ဏ္ဍာန်ဖြင့် ဆောင်ရွက်လိုပါက ကော်မရှင်သို့ ပြန်လည်တင်ပြရန် ဆုံးဖြတ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ကော်မရှင် အစည်းအဝေးဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဟန်ဝင်းအောင်

အတွင်းရေးမှူး (ကိုယ်စား)
(ဟန်ဝင်းအောင်၊ ညွှန်ကြားရေးမှူး)

**URC (Myanmar) Co., Ltd.**

မိတ္တူကို
- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၊ စက်မှုဝန်ကြီးဌာန
- ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း၊ စက်မှုဝန်ကြီးဌာန
- စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
- ရုံးလက်ခံ/မျှောစာတွဲ

9/11/12 (12:35)

ဦးဆန်းဦး / ဒေါ်ခိုင်ထွေးဆင့်


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်စ်-၀၆၇-၄၀၆၃၃၃ တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅


စာအမှတ်၊ ရက- ၁/န-၆၈၂/၂၀၁၂ (၁၁၂၇၀)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်

အကြောင်းအရာ။ URC (Myanmar) Co., Ltd. မှ စားသောက်ကုန်ပစ္စည်းထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ URC (Myanmar) Co., Ltd. ၏ (၁၆-၇-၂၀၁၂) ရက်စွဲပါစာ

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ URC (Myanmar) Co., Ltd. မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုတင်ပြလာခြင်းကိစ္စအား (၂၄-၁၀-၂၀၁၂) နေ့တွင် ကျင်းပပြုလုပ်သောကော်မရှင်၏ (၃၂/၂၀၁၂) ကြိမ် မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ URC (Myanmar) Co., Ltd. မှ ဘီစကွတ်၊ ဝေဖာစသည့်မုန့်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စအား ဖက်စပ်လုပ်ငန်း (Joint Venture) အသွင်ဏ္ဍာန်ဖြင့် ဆောင်ရွက်လိုပါက ကော်မရှင်သို့ ပြန်လည်တင်ပြရန် ဆုံးဖြတ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ကော်မရှင် အစည်းအဝေးဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

အတွင်းရေးမှူး (ကိုယ်စား)

(ဟန်ဝင်းအောင်၊ ညွှန်ကြားရေးမှူး)

URC (Myanmar) Co., Ltd.

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၊ စက်မှုဝန်ကြီးဌာန

ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း၊ စက်မှုဝန်ကြီးဌာန

စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

(ဃ) မြေငှားသက်တမ်း တစ်ခုလုံးအတွက် မြေငှားရမ်းခ ( Land Use Premium ) ကို US$ 48/sqm နှုန်း သတ်မှတ်ရန်နှင့် ကျသင့်ငွေ US$ 2820240.96 အားဖက်စပ်ကုမ္ပဏီသို့ ပေးချေရန်၊

(င) နှစ်စဉ်ငှားရမ်းခ( Annual Land Rent) ကို US$ 0.30 /sqm/ yr နှုန်း သတ်မှတ်ရန်နှင့် နှစ်စဉ်ကျသင့်ငွေ US$ 17,626.51 ကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ ပေးချေရန်၊

(စ) အဆိုပါ မြေငှားရမ်းမှုနှင့် လုပ်ငန်းဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရယူရန်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးပါက ဖက်စပ်ကုမ္ပဏီနှင့် URC ( Myanmar ) Co.,Ltd တို့ချုပ်ဆိုမည့် Sub-Lease Agreement (မူကြမ်း) ကို ရှေ့နေချုပ်ရုံးမှ ရည်ညွှန်း(၂)ပါစာဖြင့် စိစစ်ပြန်ကြားပြီးဖြစ်ပါသဖြင့် ၊ ရှေ့နေချုပ်ရုံး၏ အကြံပြုချက် နှင့်အညီ လိုအပ်သလို ပြင်ဆင်ပြီးဖြစ်ပါသည်။

၄။ သို့ပါ၍ - URC ( Myanmar ) Co.,Ltd မှ နိုင်ငံတကာအဆင့်မီ မင်္ဂလာဒုံ စက်မှုဇုန်ရှိ မြေကွက်အမှတ် - B-6 နှင့် B-7 အား ငှားရမ်း၍ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စားသောက်ကုန်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လုပ်ငန်းအဆိုပြုချက် တင်ပြလာခြင်းအား သိရှိနိုင်ပါရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြပေးပါရန် တင်ပြအပ်ပါသည်။

ပူးတွဲပါ - ရည်ညွှန်း(မိတ္တူ)များ

- လုပ်ငန်းအဆိုပြုချက် (၁)စုံ

၁၅၊၅

(မင်းထိန်)

ညွှန်ကြားရေးမှူးချုပ်

**ဝန်ကြီးရုံး**

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

မိတ္တူကို - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

- ရုံးလက်ခံ
- မျှောစာတွဲ

Frs

**URC (Thailand) Co., Ltd.**
บริษัท ยูอาร์ซี (ประเทศไทย) จำกัด
OFFICE : 44,46 RAJPATTANA ROAD, KHWANG SAPANSUNG, KHET SAPANSUNG, BANGKOK 10240
สำนักงาน : 44,46 ถนนราษฎร์พัฒนา แขวงสะพานสูง เขตสะพานสูง กรุงเทพฯ 10240
โทรศัพท์ (Tel) (662) 517-4800 โทรสาร (Fax) (662) 517-1616

May 16 2012

Director General
Department of Human Settlement and Housing Development,
Building (11), Nay Pyi Taw.

**Subject:** **Request to assist in obtaining Investment Permit from the Myanmar Investment Commission for carrying out manufacturing and selling of food products in the Republic of the Union of Myanmar**

Dear Sir,

I, the Promoter, have the honor to submit a proposal together with supporting documents, which have been prepared for setting up a 100% foreign company under the name of **URC (Myanmar) Company Limited** in accordance with the Republic of the Union of Myanmar Foreign Investment Law and the Myanmar Companies Act for carrying out the business of manufacturing and selling of food products at Plot No. B-6 and B-7, Mingaladon Industrial Park, Mingaladon Township, Yangon Region.

We have full confidence that our investment in the Republic of the Union of Myanmar will benefit to the people of the Republic of the Union of Myanmar and the State, I submit the following supporting documents along with the proposal.

1. Proposal of the Promoter to make Foreign Investment in the Republic of the Union of Myanmar;
2. Provisional Allotment, Draft of Sub-Lease Agreement, Physical Delivery Receipt, Additional Conditions and comment letter from the Union Attorney General Office for lease a land at Plot No. B-6 and B-7 of Mingaladon Industrial Park;
3. References for business and financial standing;
4. Draft of Memorandum of Association and Articles of Association.

I would like to request you to kindly assist us in obtaining the Investment Permit from Myanmar Investment Commission (MIC) by presenting this application to MIC together with your esteemed Department's forwarding letter.

Thank you for your kind assistance and co-operation.

Yours truly,

Patrick O. Ng
(Promoter of the Proposal)

บริษัท ยูอาร์ซี (ประเทศไทย) จำกัด
URC (THAILAND) CO., LTD.

*A Company of JG Summit Holdings*

FACTORY : SAMUTSAKORN INDUSTRIAL ESTATE 1/123 MU 2 SUB-DISTRICT THASAI SAMUTSAKORN 74000 THAILAND
โรงงาน : นิคมอุตสาหกรรมสมุทรสาคร 1/123 หมู่ 2 ตำบลท่าทราย อำเภอเมือง จังหวัดสมุทรสาคร 74000
โทรศัพท์ (Tel) (034) 490-031-3 โทรสาร (FAX) (034) 490-194

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂ (၅) ၃ - ၁၀ /နပတ (၁၃၉)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဧပြီလ ၄ ရက်

အကြောင်းအရာ။ Sub - Lease Agreement (မူကြမ်း)အား စိစစ်ပေးရန်ကိစ္စ

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ၁၉-၃-၂၀၁၂ ရက်စွဲပါစာအမှတ်၊ မအ/နဆစ/ MIPCL /၂၀၁၂(၂၁၄)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဖက်စပ်စနစ်ဖြင့် ဖော်ထုတ်ဆောင်ရွက်နေသောနိုင်ငံတကာအဆင့်မီ မင်္ဂလာဒုံစက်မှုဇုန်အတွင်း မြေကွက်အမှတ် B-6, B-7 တို့အား ဖက်စပ်ကုမ္ပဏီ ဖြစ်သော Mingaladon Industrial Park Co.,ltd က စင်္ကာပူနိုင်ငံ URC International သို့ ငှားရမ်းရန်အတွက် ချုပ်ဆိုမည့် Sub-Lease Agreement (မူကြမ်း) အားစိစစ်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော Sub-Lease Agreement (မူကြမ်း) ကို ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည်-

(က) ရည်ညွှန်းအပိုဒ် ၂ တွင် Sub-Lease Agreement (မူကြမ်း)များဟု ဖော်ပြထားပြီး မြေကွက်အမှတ်၊ B-6, B-7 လုပ်ကွက်(၂)ခုအတွက် စာချုပ်တစ်ခုတည်းပြုစုပေးပို့ထားကြောင်း တွေ့ရှိရပါသည်၊

(ခ) စာချုပ်(မူကြမ်း) Clause 1 တွင် ငှားရမ်းမည့်သက်တမ်းမှာ Physical Delivery Receipt ရရှိသည့်နေ့မှစတင်ကာ 7-2-2048 တွင်ကုန်ဆုံးမည်ဟု ဖော်ပြထားရာ (၃၆)နှစ် ငှားရမ်းမည့် သဘောတွေ့ရှိရပါသည်။ ပြည်ထောင်စုအစိုးရ

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၇(ခ)/န-၆၈၂/၂၀၁၂ (၁၁၇၂၅-၈)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၁၁ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **URC (Myanmar) Co., Ltd. မှ ဘီစကွတ်၊ ဝေဖာစသည့် မုန့်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ထိုင်းနိုင်ငံမှ URC (Thailand) Co., Ltd. သည် ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြန်မာနိုင်ငံတွင် URC (Myanmar) Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံစက်မှုဇုန်ရှိ မြေကွက်အမှတ် B-6 နှင့် B-7 ရှိ မြေ ၁၄.၅၂ ဧကအား ငှားရမ်း၍ ဘီစကွတ်၊ ဝေဖာစသည့် မုန့်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ရှေ့နေချုပ်ရုံး၏ သဘောတားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် Mingaladon Indusrial Park Co., Ltd. နှင့် URC (Myanmar) Co., Ltd. တို့ ချုပ်ဆိုထားမည့် Sub- Lease Agreement ကို လည်းကောင်း၊ Provisional Allotment for Plot No. B-6 and No. B-7၊ Additional Conditions for Lease of MIngaladon Industrial Park Co., Ltd. နှင့် လုပ်ငန်းတည်နေရာပြ မြေပုံများကိုလည်းကောင်း ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ကနဦးရင်းနှီးမြှုပ်နှံမှုမှာ US$ ၃၀.၀၀ သန်းဖြစ်ပြီး ငွေသား US$ ၀.၈၃ သန်း၊ စက်နှင့် စက်ပစ္စည်း US$ ၁၈.၁၀ သန်း၊ Utilities US$ ၁.၁၃ သန်း၊ စက်ရုံသုံးပစ္စည်းနှင့် အခြားအသုံးအဆောင်ပစ္စည်းများ US$ ၀.၇၁ သန်း၊ စက်ရုံသုံးပစ္စည်းနှင့် ရုံးသုံးပစ္စည်း US$ ၀.၈၇ သန်း၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများ US$ ၀.၂၇ သန်း၊ စက်ရုံ တည်ဆောက်ခြင်း US$ ၄.၂၀ သန်း၊ မြေအသုံးချမှု ပရီမီယံကြေး US$ ၂.၈၂ သန်း နှင့် ကုန်ကြမ်းနှင့် ထုပ်ပိုးပစ္စည်း US$ ၂.၀၈ သန်း တို့ ပါဝင်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း၏ သက်တမ်းကာလမှာ (၃၆) နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၁) နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၁၄.၅၂ ဧက (၅၈,၇၅၅.၀၂ စတုရန်းမီတာ) ဖြစ်ပါသည်။ နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၀.၃၀ နှုန်းဖြင့် US$ ၁၇,၆၂၆.၅၁ ကို မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ ပေးချေရမည်ဖြစ်ပါသည်။

မြေအသုံးချမှုပေးငွေ (Land Use Premium) မှာ တစ်စတုရန်းမီတာလျှင် US$ ၄၈ နှုန်းဖြင့် US$ ၂,၈၂၀,၂၄၀.၉၆ ကို ဖက်စပ်ကုမ္ပဏီ Mingaladon Industrial Park Co., Ltd. သို့ ပေးချေရမည် ဖြစ်ပါသည်။

၆။ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ URC ကုမ္ပဏီသည် ထုတ်လုပ်မည့် စက်များကို Europe, China နှင့် Korea နိုင်ငံများမှ တင်သွင်း၍ ဖိလစ်ပိုင်နည်းပညာဖြင့် စားသောက်ကုန် မျိုးစုံထုတ်လုပ်၍ ပြည်တွင်းတွင် ဈေးကွက်ရယူကာ ၁၀၀ % ဖြန့်ချိမည်ဖြစ်ပြီး ဝန်ထမ်းအင်အား အနေဖြင့် ပြည်တွင်း (၈၅) ဦး၊ ပြည်ပပညာရှင် (၁၁) ဦး၊ စုစုပေါင်း (၉၆) ဦးဖြင့် စတင်လည်ပတ် လျှက်ရှိပြီး နောင်တွင် ပြည်တွင်း၌ (၁၀၉၀) ဦး၊ ပြည်ပ (၈) ဦး စုစုပေါင်း (၁၀၉၈) ဦး ဖြစ်လာ မည်ဖြစ်၍ ဒေသဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ဖြစ်စေပါကြောင်း၊ သဘာဝပတ်ဝန်းကျင် ထိခိုက်မှု၊ ညစ်ညမ်းမှုမရှိစေရန် လိုအပ်သော အစီအမံများပြုလုပ်ဆောင်ရွက်မည် ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကို မထိခိုက်နိုင်ပါကြောင်း၊ URC (Myanmar) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံ မှုမှာ လုပ်ငန်းသစ်ဖြစ်၍ ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ (ပူးတွဲ-၁)ဖြင့်တင်ပြထားပါသည်။

၇။ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ အဆိုပြုတင်ပြခြင်းကိစ္စနှင့် စပ်လျဉ်း၍ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မျှတမှု ရှိပါကြောင်း၊ နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား/ လူအင်အား အချိုးအစားညီညွတ်မျှတမှု ရှိပါကြောင်း၊ ကျန်းမာရေး ညီညွတ်မျှတမှု ရှိစေရန် လုပ်ငန်းခွင် သန့်ရှင်းရေးအစီအစဉ်များ စနစ်တကျဆောင်ရွက်ရန် လိုအပ်ကြောင်း၊ စားသောက်ကုန်လုပ်ငန်းဖြစ်သည့်အတွက် FDA နှင့် CRDC ထောက်ခံချက်များ ရရှိရန် လိုအပ်ကြောင်းနှင့် တည်ဆဲဥပဒေများနှင့် ကိုက်ညီပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။(ပူးတွဲ-၂)ဖြင့်တင်ပြထားပါသည်။

၈။ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းမှ အဆိုပြုတင်ပြခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပြည် တွင်းရှိ စိုက်ပျိုးရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ပြည်တွင်း၌ ထုတ်လုပ်နိုင်သော ကုန်ကြမ်းပစ္စည်းအချို့ကို ပြည်တွင်းမှ ဝယ်ယူသင့်ပါကြောင်း၊ စားသောက်ကုန်ထုတ်လုပ်ခြင်း ဖြစ် သဖြင့် အသုံးပြုသည့် စက်ပစ္စည်းကိရိယာများ Food Grade များကိုသာ အသုံးပြုသင့်ပါ ကြောင်း၊ GMP နှင့် အညီထုတ်လုပ်ပြီး ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေ၊ အမျိုးသားအစား အသောက်ဥပဒေများကို လိုက်နာမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။(ပူးတွဲ-၃)ဖြင့်တင်ပြထားပါသည်။

၉။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ပတ်ဝန်းကျင်နှင့် လူမှု ရေး ထိခိုက်ပျက်စီးမှုများနှင့် လုပ်ငန်းခွင် မတော်တဆထိခိုက်မှုများကို ရှောင်ရှားနိုင်ရန် အတွက် ပစ္စည်းများ သိုလှောင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ထုပ်ပိုးခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု အနည်းဆုံး ဖြစ်စေရန်

ဆောင်ရွက်မည့် အစီအစဉ်များ ရေးဆွဲပြီး လက်တွေ့လိုက်နာဆောင်ရွက်စေရန်နှင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများကို အသုံးပြုစေခြင်း၊ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ/ မရှိကို ပြည်တွင်း/ ပြည်ပ တတ်ကျွမ်းသူများ ပါဝင်သည့် တတိယအဖွဲ့အစည်းအား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ပြုလုပ်၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်ကို အသေးစိတ်ရေးဆွဲတင်ပြစေပြီး စီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် တည်ဆဲပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေများကို လိုက်နာကျင့်သုံးရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။(ပူးတွဲ-၄)ဖြင့်တင်ပြထားပါသည်။

၁၀။ ထုတ်လုပ်ပုံမှန်နှစ်တွင် Biscuits (Dewberry, Fun-O, Fun-O Power) အထုပ်ကြီးတစ်ထုပ်လျှင် အထုပ်သေး (၁၂) ထုပ် ပါဝင်သည့် Biscuits (၃) မျိုး စုစုပေါင်း ၁,၀၅၇,၇၂၃ ထုပ်နှင့် Biscuits (Magic Twin) အထုပ်ကြီးတစ်ထုပ်လျှင် အထုပ်သေး (၂၄) ထုပ်ပါ ၄၁၁,၇၂၃ ထုပ်၊ Wafers အထုပ်ကြီးတစ်ထုပ်လျှင် အထုပ်သေး (၁၂) ထုပ်ပါ ၁,၁၁၃,၈၈၃ ထုပ်နှင့် Snacks အထုပ်ကြီးတစ်ထုပ်လျှင် အထုပ်သေး (၁၂) ထုပ်ပါ Snacks (၂) မျိုး စုစုပေါင်း ၃,၁၀၁,၆၃၂ ထုပ် ဖြစ်ပါသည်။

၁၁။ ကုမ္ပဏီမှ ရောင်းချမည့် ပုံမှန်နှစ်ဈေးနှုန်းမှာ Biscuits, Dewberry အထုပ်ကြီးတစ်ထုပ်လျှင် ကျပ် ၁၃,၇၄၆၊ Fun-O အထုပ်ကြီးတစ်ထုပ်လျှင် ကျပ် ၁၃,၇၄၆၊ Fun-O Power အထုပ်ကြီး တစ်ထုပ်လျှင် ကျပ် ၁၃,၇၄၆ နှင့် Magic Twin အထုပ်ကြီးတစ်ထုပ်လျှင် ကျပ် ၁၀,၉၉၇၊ Wafers အထုပ်ကြီး တစ်ထုပ်လျှင် ကျပ် ၁၂,၈၆၈ နှင့် Snacks (Roller Coster) အထုပ်ကြီး တစ်ထုပ်လျှင် ကျပ် ၆,၈၄၄ နှင့် Snacks (Chippy) အထုပ်ကြီးတစ်ထုပ်လျှင် ကျပ် ၆,၉၃၇တို့ ဖြစ်ပါသည်။

၁၂။ URC (Myanmar) Co., Ltd. သည် ကနဦး(၃)နှစ်တွင် ၁၀၀%ပြည့် ပြည်တွင်း၌ ရောင်းချမည်ဖြစ်ပြီး (၄)နှစ်မြောက်မှစ၍ ထုတ်လုပ်မှုအပေါ် ၁.၅% ပြည်ပသို့ တင်ပို့ ရောင်းချမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေမှာ အမေရိကန်ဒေါ်လာ (၆၈.၈၅) သန်းနှင့် ကုမ္ပဏီ၏ အသားတင်အမြတ်မှာ US$ (၄.၆၇) သန်း ဖြစ်ပါသည်။

၁၄။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၇) နှစ်နှင့် (၁၁) လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၄ % ဖြစ်ပါသည်။

၁၅။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ (၁.၅၆) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ (၂.၉၃) သန်း ဖြစ်ပါသည်။

၁၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်းဦးရေ (၁၀၉၀) ဦးနှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း ဦးရေ (၈) ဦး စုစုပေါင်း (၁၀၉၈) ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၇။ URC (Myanmar) Co., Ltd. မှ ထုတ်လုပ်မည့် ဘီစကွတ်၊ ဝေဖာ စသည့် မုန့်အမျိုးမျိုးတွင် ဖိလစ်ပိုင်နိုင်ငံ Universal Robina Corporation ၏ ကုန်အမှတ်တံဆိပ်နှင့် နည်းပညာ သုံးစွဲခွင့်ပြုကြောင်း ခွင့်ပြုချက်များနှင့် ဖိလစ်ပိုင်နိုင်ငံ၊ မနီလာမြို့ရှိ မြန်မာသံရုံးမှ ထောက်ခံခဲ့ကြောင်း တင်ပြထားပါသည်။ (ပူးတွဲ-၅)ဖြင့်တင်ပြထားပါသည်။

၁၈။ ငွေရေးကြေးရေး အထောက်အထား အဖြစ် URC (Thailand) Co., Ltd. သည် (၃၀-၄-၂၀၁၂) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ (၁၅.၃) သန်းရှိကြောင်း OCBC Bank မှ ထောက်ခံတင်ပြထားပါသည်။

၁၉။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ (၂၁) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၂၀။ သို့ဖြစ်ပါ၍ စင်္ကာပူနိုင်ငံမှ URC (Thailand) Co., Ltd. သည် ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် URC (Myanmar) Co., Ltd. တည်ထောင်ပြီး ဘီစကွတ်၊ ဝေဖာစသည့် မုန့်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
( အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ် )

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | URC (Myanmar) Co., Ltd. | (၁) Mr. Patrick O. Ng<br>Director<br>Singaporean<br>P. P No. E 2322654C | 528 East Coast Road,<br># 20-04, Singapore. |
| | | (၂) Mr. Lance Y. Gokongwei<br>Director<br>Filipino<br>P. P No. EB 0483429 | 517 Sen. Gil Puyat, North<br>Forbes, Makati City,<br>Philippines. |
| | | (၃) Mr. Premchai Navarasu-<br>chitr<br>Director<br>Thai<br>P. P No. X 862716 | 53/28 Phaholyothin Road,<br>Samsennai, Phayathai,<br>Bangkok, Thailand. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - -

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - 528 East Coast Road, # 20-04, Singapore.

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr. Patrick O. Ng
Director

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဘီစကွတ်၊ ဝေဖာစသည့် မုန့်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

DG ၄၉

M-408
15.6.2012

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ဆောက်လုပ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး
# နေပြည်တော်

(ဆောက်လုပ်ရေး ဝန်ကြီး)

စာအမှတ်၊ ၂၆ / ခွဲ - ၃ / ၂၀၁၂ ( စီ ၄၉၃၄ )
ရက် စွဲ၊ ၂၀၁၂ ခုနှစ် ဇွန်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **URC ( Myanmar ) Co.,Ltd ဖွဲ့စည်း၍ စားသောက်ကုန် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) URC(Myanmar) Company Limited ၏ ၂၀၁၂ ခုနှစ် မေလ(၁၆)ရက် နေ့စွဲပါတင်ပြစာ

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၀၁၂ ခုနှစ် ဧပြီလ ( ၄ ) ရက်နေ့စွဲပါ စာအမှတ်၊ ၂ ( ၅ ) ၃ - ၁၀ / နပတ ( ၁၃၉ )

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဖက်စပ်စနစ်ဖြင့် ဖော်ထုတ်ထားသော ရန်ကုန်တိုင်းဒေသကြီး ၊ နိုင်ငံတကာအဆင့်မီ မင်္ဂလာဒုံစက်မှုဇုန်ရှိ မြေကွက်အမှတ် - B-6 နှင့် B-7 ( စုစုပေါင်းဧရိယာ - ၁၄.၅၂ ဧက ) အား ငှားရမ်း၍ ထိုင်းနိုင်ငံ ၊ URC (Thailand) Co.,Ltd ၏ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် " URC (Myanmar) Co.,Ltd " အမည်ဖြင့် ဖွဲ့စည်းတည်ထောင်ကာ စားသောက်ကုန် ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လုပ်ငန်းအဆိုပြုချက်ကို ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါ မြေကွက်များအား အောက်ပါအချက်အလက်များအရ ငှားရမ်းရန် ပဏာမ သဘောတူညီနိုင်းထားပါသည် ။

(က) မြေကွက်အမှတ် - B-6 နှင့် B-7 ( စုစုပေါင်းဧရိယာ - ၁၄.၅၂ ဧက ) ( ၅၈၇၅၅.၀၂ စတုရန်းမီတာ )အား ဖက်စပ်ကုမ္ပဏီ " Mingaladon Industrial Park Co.,Ltd " မှ "URC (Myanmar) Co.,Ltd" သို့ ငှားရမ်းရန်၊

( ခ ) ယင်းမြေကွက်ပေါ်တွင် "URC (Myanmar) Co.,Ltd" မှ US$ 31 million ရင်းနှီးမြှုပ်နှံ၍ ဘီစကစ်၊ ဝေဖာနှင့် အားလူးကြော်စသည့် စားသောက်ကုန်များ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်၊

( ဂ ) မြေငှားသက်တမ်းကို မင်္ဂလာဒုံစက်မှုဇုန် မြေငှားသက်တမ်းအတိုင်း ( ၇.၂.၂၀၄၈ ) အထိ ( ၃၆ )နှစ် ငှားရမ်းရန်၊

(ဃ) မြေငှားသက်တမ်း တစ်ခုလုံးအတွက် မြေငှားရမ်းခ ( Land Use Premium ) ကို US$ 48/sqm နှုန်း သတ်မှတ်ရန်နှင့် ကျသင့်ငွေ US$ 2820240.96 အား ဖက်စပ် ကုမ္ပဏီသို့ပေးချေရန်၊

( င ) နှစ်စဉ်ငှားရမ်းခ(Annual Land Rent) ကို US$ 0.30/sqm/ yr နှုန်း သတ်မှတ်ရန်နှင့် နှစ်စဉ်ကျသင့်ငွေ US$ 17,626.51 ကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ ပေးချေရန်၊

( စ ) အဆိုပါ မြေငှားရမ်းမှုနှင့် လုပ်ငန်းဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရယူရန်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးပါက ဖက်စပ်ကုမ္ပဏီနှင့် URC (Myanmar) Co.,Ltd တို့ချုပ်ဆိုမည့် Sub-Lease Agreement ( မူကြမ်း ) ကို ရှေ့နေချုပ်ရုံးမှ ရည်ညွှန်း(၂)ပါစာဖြင့် စီစစ်ပြန်ကြားပြီးဖြစ်ပါသဖြင့် ရှေ့နေချုပ်ရုံး၏အကြံပြုချက်နှင့်အညီ လိုအပ်သလို ပြင်ဆင်ပြီးဖြစ်ပါသည်။

၄။ သို့ပါ၍ - URC ( Myanmar )Co.,Ltd မှ နိုင်ငံတကာအဆင့်မီ မင်္ဂလာဒုံ စက်မှုဇုန်ရှိ မြေကွက်အမှတ် - B-6 နှင့် B-7 အား ငှားရမ်း၍ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စားသောက်ကုန်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လုပ်ငန်းအဆိုပြုချက် တင်ပြလာခြင်းအား သိရှိခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲပါ - ရည်ညွှန်းစာ(မိတ္တူ)များ
- လုပ်ငန်းအဆိုပြုချက် ( ၁ ) စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ကျော်လွင်၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။

**URC (Thailand) Co., Ltd.**
บริษัท ยูอาร์ซี (ประเทศไทย) จำกัด
OFFICE : 44,46 RAJPATTANA ROAD, KHWANG SAPANSUNG, KHET SAPANSUNG, BANGKOK 10240
สำนักงาน : 44,46 ถนนราษฎร์พัฒนา แขวงสะพานสูง เขตสะพานสูง กรุงเทพฯ 10240
โทรศัพท์ (Tel) (662) 517-4800 โทรสาร (Fax) (662) 517-1616

May 16 2012

Director General
Department of Human Settlement and Housing Development,
Building (11), Nay Pyi Taw.

**Subject:** **Request to assist in obtaining Investment Permit from the Myanmar Investment Commission for carrying out manufacturing and selling of food products in the Republic of the Union of Myanmar**

Dear Sir,

I, the Promoter, have the honor to submit a proposal together with supporting documents, which have been prepared for setting up a 100% foreign company under the name of **URC (Myanmar) Company Limited** in accordance with the Republic of the Union of Myanmar Foreign Investment Law and the Myanmar Companies Act for carrying out the business of manufacturing and selling of food products at Plot No. B-6 and B-7, Mingaladon Industrial Park, Mingaladon Township, Yangon Region.

We have full confidence that our investment in the Republic of the Union of Myanmar will benefit to the people of the Republic of the Union of Myanmar and the State, I submit the following supporting documents along with the proposal.

1. Proposal of the Promoter to make Foreign Investment in the Republic of the Union of Myanmar;
2. Provisional Allotment, Draft of Sub-Lease Agreement, Physical Delivery Receipt, Additional Conditions and comment letter from the Union Attorney General Office for lease a land at Plot No. B-6 and B-7 of Mingaladon Industrial Park;
3. References for business and financial standing;
4. Draft of Memorandum of Association and Articles of Association.

I would like to request you to kindly assist us in obtaining the Investment Permit from Myanmar Investment Commission (MIC) by presenting this application to MIC together with your esteemed Department's forwarding letter.

Thank you for your kind assistance and co-operation.

Yours truly,

Patrick O. Ng
(Promoter of the Proposal)

บริษัท ยูอาร์ซี (ประเทศไทย) จำกัด
URC (THAILAND) CO., LTD.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂ (၅) ၃ - ၁၀ /နပတ (၁၃၉)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဧပြီလ ၄ ရက်

အကြောင်းအရာ။ Sub - Lease Agreement (မူကြမ်း)အား စိစစ်ပေးရန်ကိစ္စ

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ၁၉-၃-၂၀၁၂ ရက်စွဲပါစာအမှတ်၊ မအာ/နဆစ/ MIPCL /၂၀၁၂(၂၁၄)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဖက်စပ်စနစ်ဖြင့် ဖော်ထုတ်ဆောင်ရွက်နေသောနိုင်ငံတကာအဆင့်မီ မင်္ဂလာဒုံစက်မှုဇုန်အတွင်း မြေကွက်အမှတ် B-6, B-7 တို့အား ဖက်စပ်ကုမ္ပဏီ ဖြစ်သော Mingaladon Industrial Park Co.,ltd က စင်္ကာပူနိုင်ငံ URC International သို့ ငှားရမ်းရန်အတွက် ချုပ်ဆိုမည့် Sub-Lease Agreement (မူကြမ်း) အားစိစစ်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော Sub-Lease Agreement (မူကြမ်း) ကို ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည်-

(က) ရည်ညွှန်းအပိုဒ် ၂ တွင် Sub-Lease Agreement (မူကြမ်း)များဟု ဖော်ပြထားပြီး မြေကွက်အမှတ်၊ B-6, B-7 လုပ်ကွက်(၂)ခုအတွက် စာချုပ်တစ်ခုတည်းပြုစုပေးပို့ထားကြောင်း တွေ့ရှိရပါသည်၊

(ခ) စာချုပ်(မူကြမ်း) Clause 1 တွင် ငှားရမ်းမည့်သက်တမ်းမှာ Physical Delivery Receipt ရရှိသည့်နေ့မှစတင်ကာ 7-2-2048 တွင်ကုန်ဆုံးမည်ဟု ဖော်ပြထားရာ (၃၆)နှစ် ငှားရမ်းမည့် သဘောတွေ့ရှိရပါသည်။ ပြည်ထောင်စုအစိုးရ

အဖွဲ့၏ ၃၀-၉-၂၀၁၁ နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ်(၃၉/၂၀၁၁)၏ အပိုဒ် ၅ နှင့် ၆ တို့တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြေအသုံးပြုခွင့်ကာလကို စီးပွားရေးလုပ်ငန်း အမျိုးအစားနှင့် ရင်းနှီးမြှုပ်နှံမှုပမာဏပေါ်မူတည်၍ ကနဦးနှစ် ၃၀ အထိနှင့် သက်တမ်းတိုးခွင့်ကို ၁၅ နှစ်အထိ နှစ်ကြိမ်တိုးမြှင့်ရန်ခွင့်ပြုနိုင်သည်ဟု ညွှန်ကြားထားကြောင်း ဖော်ပြအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)တွင် ကွက်လပ်များပါရှိနေသဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ထားပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဃ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်မရရှိသေးလျှင်တံဆိပ်ခေါင်းအက်ဥပဒေအရကျသင့်သော တံဆိပ်ခေါင်းခွန်ကို မြေအငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

(င) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့်ဖြည့်စွက် ပြင်ဆင်ပေးလိုက်ပါသည်။

၃။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက် ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၄။ URC International သည် သက်ဆိုင်ရာနိုင်ငံ၏ ဥပဒေအရ တရားဝင် ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ထားခြင်းခံသူဟုတ် မဟုတ် စသည် တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၆။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင် ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၅.၅.၁၂

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
(ကျော်ဆန်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန



M-017/E/DKM/URC(B-6)(B-7)(23-3-2012)

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်
ရက်စွဲ
ရန်ကုန်တိုင်းဒေသကြီး

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၂ / ၃ - ၆ ( ၃ ) / (စီးပွား)
ရက် စွဲ၊ ၂၀၁၂ ခုနှစ်၊ စက်တင်ဘာ လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၇-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၇က-၆(ခ)/န-၆၈၄ / ၂၀၁၂ ( ၉၀၄၉ )

၁။ ထိုင်းနိုင်ငံမှ URC(Thailand) Co., Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် URC(Myanmar) Co., Ltd. တည်ထောင်ပြီး ရန်ကုန်မြောက်ပိုင်းခရိုင်၊ မင်္ဂလာဒုံမြို့နယ်၊ မင်္ဂလာဒုံစက်မှုဇုံရှိ မြေကွက်အမှတ်(B-6, B-7)၊ ဧရိယာ (၁၄. ၅၂)ဧကအား ငှားရမ်း၍ စားသောက်ကုန်ပစ္စည်းထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် URC(Myanmar) Co., Ltd. ကလျှောက်ထားလာခြင်းအပေါ် အခြေအနေကို စိစစ်သုံးသပ်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ညွှန်ကြားလာခြင်းလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်းသဘောထားမှတ်ချက်တင်ပြအပ်ပါသည်-

(က) Universal Robina Coporation (URC) သည် JG Summit Holding Inc ၏ အဖွဲ့ဝင် ကုမ္ပဏီဖြစ်ပြီး JGSHI Group၏ လုပ်ငန်းများမှာ စားသောက်ကုန်၊ဆောက်လုပ်ရေး၊ AIR- Line , Telecom, Bank တို့ ပါဝင်၍ URC မှာ သက်တမ်း အရင့်ဆုံး နှစ်(၅၀)ကျော်ရှိ အကြီးဆုံး ကုမ္ပဏီဖြစ် ကြောင်း၊ ဖိလစ်ပိုင်နှင့်ထိုင်းမှာပထမဈေးကွက် နေရာရှိပြီး စင်္ကာပူနှင့် ဟောင်ကောင်နိုင်ငံ တို့တွင် ကုမ္ပဏီရုံးခွဲများရှိကြောင်းမြန်မာနိုင်ငံတွင် လာရောက်ရင်းနှီးမြှုပ်နှံမည့် URC ကုမ္ပဏီသည်ထုတ်လုပ်မည့်စက်များကို Europe, China နှင့် Korea နိုင်ငံများမှ တင်သွင်း၍ ဖိလစ်ပိုင်နည်းပညာဖြင့် စားသောက်ကုန် မျိုးစုံထုတ်လုပ်၍ ပြည်တွင်းတွင်ဈေးကွက်ရယူကာ(၁၀၀%)ဖြန့်ချိမည်ဖြစ်ပြီးဝန်ထမ်းအင်အားအနေဖြင့် ပြည်တွင်း(၈၅)ဦး၊ ပြည်ပပညာရှင်(၁၁)ဦး၊ စုစုပေါင်း(၉၆)ဦးဖြင့် စတင်လည်ပတ်လျှက်ရှိပြီး နောင်တွင် ပြည်တွင်း၌ (၁၀၉၀)ဦး ပြည်ပ(၈)ဦး စုစုပေါင်း(၁၀၉၈)ဦးဖြစ်လာမည် ဖြစ်၍ ဒေသဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်စေပါသည်၊

(ခ) လုပ်ငန်းဆောင်ရွက်မည့်စက်ရုံမြေနေရာမှာ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် စင်္ကာပူနိုင်ငံ Kepventure Pte Co., Ltd.တို့၏ ဖက်စပ်ကုမ္ပဏီ Mingaladon IndustrialPark Co., Ltd. မှ ဖော်ထုတ်ထားသည့်မင်္ဂလာဒုံ စက်မှုဇုန်မြေကွက် အမှတ် (ဘီ-၆)နှင့် (ဘီ-၇) တွင်(၃၆)နှစ် ငှားရမ်းစာချုပ်၍ လုပ်ကိုင်မည်ဖြစ်ပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု၊ ညစ်ညမ်းမှုမရှိစေရန် လိုအပ်သောအစီအမံများပြုလုပ်ဆောင်ရွက်မည်ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကို မထိခိုက်နိုင်ပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၃. ၈. ၂၀၁၂)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/၂၀၁၂)ဆုံးဖြတ်ချက်အပိုဒ်(၇၄)အရ URC(Myanmar) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူ**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
URC(Thailand) Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

M-1115
719

စာအမှတ်၊ ၂ / ၃ - ၆ ( ၃ ) / (စီးပွား)
ရက် စွဲ၊ ၂၀၁၂ ခုနှစ်၊ စက်တင်ဘာ လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၇-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၇က-၆(ခ)/န-၆၈၄ /၂၀၁၂ ( ၉၀၄၉ )

၁။ ထိုင်းနိုင်ငံမှ URC(Thailand) Co., Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် URC(Myanmar) Co., Ltd. တည်ထောင်ပြီး ရန်ကုန်မြောက်ပိုင်းခရိုင်၊ မင်္ဂလာဒုံမြို့နယ်၊ မင်္ဂလာဒုံစက်မှုဇုံရှိ မြေကွက်အမှတ်(B-6, B-7)၊ ဧရိယာ (၁၄. ၅၂)ဧကအား ငှားရမ်း၍ စားသောက်ကုန်ပစ္စည်းထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် URC(Myanmar) Co., Ltd. ကလျှောက်ထားလာခြင်းအပေါ် အခြေအနေကို စိစစ်သုံးသပ်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ညွှန်ကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်းသဘောထား မှတ်ချက်တင်ပြအပ်ပါသည်-

(က) Universal Robina Coporation (URC) သည် JG Summit Holding Inc ၏ အဖွဲ့ဝင် ကုမ္ပဏီ ဖြစ်ပြီး JGSHI Group၏ လုပ်ငန်းများမှာ စားသောက်ကုန်၊ဆောက်လုပ်ရေး၊ AIR- Line , Telecom, Bank တို့ ပါဝင်၍ URC မှာ သက်တမ်း အရင့်ဆုံး နှစ်(၅၀)ကျော်ရှိ အကြီးဆုံး ကုမ္ပဏီဖြစ် ကြောင်း၊ ဖိလစ်ပိုင်နှင့်ထိုင်းမှာပထမဈေးကွက် နေရာရှိပြီး စင်္ကာပူနှင့် ဟောင်ကောင်နိုင်ငံ တို့တွင် ကုမ္ပဏီရုံးခွဲများရှိကြောင်းမြန်မာနိုင်ငံတွင် လာရောက် ရင်းနှီးမြှုပ်နှံမည့် URC ကုမ္ပဏီသည်ထုတ်လုပ်မည့်စက်များကို Europe, China နှင့် Korea နိုင်ငံများမှ တင်သွင်း၍ ဖိလစ်ပိုင်နည်းပညာဖြင့် စားသောက်ကုန် မျိုးစုံထုတ်လုပ်၍ ပြည်တွင်းတွင်ဈေးကွက်ရယူကာ(၁၀၀%)ဖြန့်ချိမည်ဖြစ်ပြီးဝန်ထမ်းအင်အားအနေဖြင့် ပြည်တွင်း(၈၅)ဦး၊ ပြည်ပပညာရှင်(၁၁)ဦး၊ စုစုပေါင်း(၉၆)ဦးဖြင့် စတင်လည်ပတ်လျက်ရှိပြီး နောင်တွင် ပြည်တွင်း၌ (၁၀၉၀)ဦး ပြည်ပ(၈)ဦး စုစုပေါင်း(၁၀၉၈)ဦးဖြစ်လာမည် ဖြစ်၍ ဒေသဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်စေပါသည်၊

(ခ) လုပ်ငန်းဆောင်ရွက်မည့်စက်ရုံမြေနေရာမှာ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် စင်္ကာပူနိုင်ငံ Kepventure Pte Co., Ltd.တို့၏ ဖက်စပ်ကုမ္ပဏီ Mingaladon IndustrialPark Co., Ltd. မှ ဖော်ထုတ်ထားသည့်မင်္ဂလာဒုံ စက်မှုဇုန်မြေကွက် အမှတ် (ဘီ-၆)နှင့် (ဘီ-၇) တွင်(၃၆)နှစ် ငှားရမ်းစာချုပ်၍ လုပ်ကိုင်မည်ဖြစ်ပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု၊ ညစ်ညမ်းမှုမရှိစေရန် လိုအပ်သောအစီအမံများပြုလုပ်ဆောင်ရွက်မည်ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကို မထိခိုက်နိုင်ပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၃. ၈. ၂၀၁၂)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/၂၀၁၂)ဆုံးဖြတ်ချက်အပိုဒ်(၇၄)အရ URC(Myanmar) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း တောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူ**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
URC(Thailand) Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

**URC (MYANMAR) COMPANY LIMITED**
**Annual Water Requirement**
**Expressed in US$**

Annex - 14

| Particular | Unit | Unit price | Year 1 | | Year 2 | | Year 3 | | Year 4 | | Year 5 onwards | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | Qty | Amount | Qty | Amount | Qty | Amount | Qty | Amount | Qty | Amount |
| Biscuits Production | cu.m | 0.50 | 10,989.00 | 5,494.50 | 16,474.00 | 8,237.00 | 21,965.00 | 10,982.50 | 27,487.00 | 13,743.50 | 27,487.00 | 13,743.50 |
| | | | | | | | | | | | | |
| Wafers Production | cu.m | 0.50 | 4,983.00 | 2,491.50 | 7,457.00 | 3,728.50 | 9,953.00 | 4,976.50 | 12,449.00 | 6,224.50 | 12,449.00 | 6,224.50 |
| | | | | | | | | | | | | |
| Snacks Production | cu.m | 0.50 | 1,529.00 | 764.50 | 5,741.00 | 2,870.50 | 8,237.00 | 4,118.50 | 10,733.00 | 5,366.50 | 12,480.00 | 6,240.00 |
| | | | | | | | | | | | | |
| Total | | | | 8,750.50 | | 14,836.00 | | 20,077.50 | | 25,334.50 | | 26,208.00 |

**URC (MYANMAR) COMPANY LIMITED**
**Production and Sales Schedule**
**Expressed in US$**

| Description | Account unit | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 |
|---|---|---|---|---|---|---|---|---|---|---|
| **Production Unit** | | | | | | | | | | |
| (A) Biscuits | cases | | | | | | | | | |
| Dewberry | 36g x 12 packs x 12 boxes | 159,377 | 239,065 | 318,753 | 398,442 | 398,442 | 398,442 | 398,442 | 398,442 | 398,442 |
| Fun-O | 40g x 12 packs x 12 polybags | 143,208 | 214,812 | 286,416 | 358,020 | 358,020 | 358,020 | 358,020 | 358,020 | 358,020 |
| Magic Twin | 15g x 24 packs x 12 polybags | 164,689 | 247,034 | 329,378 | 411,723 | 411,723 | 411,723 | 411,723 | 411,723 | 411,723 |
| Fun-O Power | 45g x 12 packs x 12 polybags | 120,504 | 180,756 | 241,009 | 301,261 | 301,261 | 301,261 | 301,261 | 301,261 | 301,261 |
| | | | | | | | | | | |
| (B) Wafers | cases | | | | | | | | | |
| Lausanne Jumbo | 28g x 12 packs x 12 boxes | 453,960 | 680,940 | 907,920 | 1,134,900 | 1,134,900 | 1,134,900 | 1,134,900 | 1,134,900 | 1,134,900 |
| | | | | | | | | | | |
| (C) Snacks | cases | | | | | | | | | |
| Roller Coaster | 15g x 12 packs x 6 polybags | 445,553 | 668,330 | 891,107 | 1,113,883 | 1,113,883 | 1,113,883 | 1,113,883 | 1,113,883 | 1,113,883 |
| Chippy | 15g x 12 packs x 6 polybags | 0 | 795,100 | 1,192,649 | 1,590,199 | 1,987,749 | 1,987,749 | 1,987,749 | 1,987,749 | 1,987,749 |
| | | | | | | | | | | |
| Total production unit | | 1,487,291 | 3,026,037 | 4,167,232 | 5,308,428 | 5,705,978 | 5,705,978 | 5,705,978 | 5,705,978 | 5,705,978 |
| | | | | | | | | | | |
| **Local Sales Unit** | | | | | | | | | | |
| (A) Biscuits | cases | | | | | | | | | |
| Dewberry | 36g x 12 packs x 12 boxes | 156,986 | 235,479 | 309,190 | 380,512 | 374,535 | 368,559 | 362,582 | 356,606 | 350,629 |
| Fun-O | 40g x 12 packs x 12 polybags | 141,060 | 211,590 | 277,824 | 341,909 | 336,539 | 331,168 | 325,798 | 320,428 | 315,058 |
| Magic Twin | 15g x 24 packs x 12 polybags | 162,219 | 243,328 | 319,497 | 393,195 | 387,020 | 380,844 | 374,668 | 368,492 | 362,316 |
| Fun-O Power | 45g x 12 packs x 12 polybags | 118,696 | 178,045 | 233,779 | 287,704 | 283,185 | 278,666 | 274,148 | 269,629 | 265,110 |
| | | | | | | | | | | |
| (B) Wafers | cases | | | | | | | | | |
| Lausanne Jumbo | 28g x 12 packs x 12 boxes | 447,151 | 670,726 | 880,682 | 1,083,829 | 1,066,806 | 1,049,782 | 1,032,759 | 1,015,735 | 998,712 |
| | | | | | | | | | | |
| (C [illegible]ks | cases | | | | | | | | | |
| Roller Coaster | 15g x 12 packs x 6 polybags | 438,870 | 658,305 | 864,374 | 1,063,758 | 1,047,050 | 1,030,342 | 1,013,634 | 996,925 | 980,217 |
| Chippy | 15g x 12 packs x 6 polybags | 0 | 783,173 | 1,156,870 | 1,518,640 | 1,868,484 | 1,838,668 | 1,808,852 | 1,779,035 | 1,749,219 |
| Total sales unit | | 1,464,982 | 2,980,646 | 4,042,216 | 5,069,547 | 5,363,619 | 5,278,029 | 5,192,441 | 5,106,850 | 5,021,261 |
| | | | | | | | | | | |
| **Export Sales Unit** | | | | | | | | | | |
| (A) Biscuits | cases | | | | | | | | | |
| Dewberry | 36g x 12 packs x 12 boxes | 2,391 | 3,586 | 9,563 | 17,930 | 23,907 | 29,883 | 35,860 | 41,836 | 47,813 |
| Fun-O | 40g x 12 packs x 12 polybags | 2,148 | 3,222 | 8,592 | 16,111 | 21,481 | 26,852 | 32,222 | 37,592 | 42,962 |
| Magic Twin | 15g x 24 packs x 12 polybags | 2,470 | 3,706 | 9,881 | 18,528 | 24,703 | 30,879 | 37,055 | 43,231 | 49,407 |
| Fun-O Power | 45g x 12 packs x 12 polybags | 1,808 | 2,711 | 7,230 | 13,557 | 18,076 | 22,595 | 27,113 | 31,632 | 36,151 |
| | | | | | | | | | | |
| (B) Wafers | cases | | | | | | | | | |
| Lausanne Jumbo | 28g x 12 packs x 12 boxes | 6,809 | 10,214 | 27,238 | 51,071 | 68,094 | 85,118 | 102,141 | 119,165 | 136,188 |
| | | | | | | | | | | |
| (C) Snacks | cases | | | | | | | | | |
| Roller Coaster | 15g x 12 packs x 6 polybags | 6,683 | 10,025 | 26,733 | 50,125 | 66,833 | 83,541 | 100,249 | 116,958 | 133,666 |
| Chippy | 15g x 12 packs x 6 polybags | 0 | 11,927 | 35,779 | 71,559 | 119,265 | 149,081 | 178,897 | 208,714 | 238,530 |
| Total sales unit | | 22,309 | 45,391 | 125,016 | 238,881 | 342,359 | 427,949 | 513,537 | 599,128 | 684,717 |
| | | | | | | | | | | |

